# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅ (အ) /မ-၀၁၆/ ၂၀၁၆ (၄၈၉)

ရက်စွဲ၊ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၂၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်မှ ရေတံခွန်တောင်ကိုယ်ပိုင်စာသင်ကျောင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီနှင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်တို့မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့ ကွင်းအမှတ် (၅၄၈)၊ ချောင်းကြီး၀မြောက် ကွင်းအမှတ် (၅၄၉)၊ ချောင်းကြီး၀အရှေ့(အိုင်ကြီး) ကွင်းအမှတ်(၅၅၀-က)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီမှ စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် စုစုပေါင်း မြေဧရိယာ (၅၄၇.၈၀) ဧကအနက် မြေ (၂၁၇.၈၀) ဧက ၏ (၆.၂)ဧကတွင် ရေတံခွန်တောင် ကိုယ်ပိုင်စာသင်ကျောင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်တို့အကြားချုပ်ဆိုသော နိုင်ငံတကာအဆင့်မီ ရေတံခွန်တောင်ဂေါက်ကွင်း၊ Club House၊ အပန်းဖြေအားကစားဥယျာဉ်၊ စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ရေးစီမံကိန်း သဘောတူစာချုပ် ၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း(မိတ္တူ)တို့ကို တင်ပြထားပါသည်။

၃။ ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက် နှင့် မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီတို့ ချုပ်ဆိုထားသည့် သဘောတူစာချုပ်အရ ကုမ္ပဏီသည် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ စီမံခန့်ခွဲ ပိုင်ခွင့်ရှိသော မြေဧရိယာ (၅၄၇.၈၀) ဧက အနက် မြေဧရိယာ (၃၃၀) ဧကအား B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ရေတံခွန်တောင်ဂေါက်ကွင်းလုပ်ငန်းအား ငှားရမ်းဆောင်ရွက်မည်ဖြစ်၍ မြေဧရိယာ (၂၁၇.၈၀) ဧက အား B.O.O စနစ်ဖြင့် ငှားရမ်းဆောင်ရွက်မည်ဖြစ်ပါသည်။ ကုမ္ပဏီမှ B.O.O စနစ်ဖြင့် ဆောင်ရွက်မည့် မြေ(၂၁၇.၈၀) ဧကပေါ် တွင် ရေတံခွန်တောင် ကိုယ်ပိုင်စာသင်ကျောင်းလုပ်ငန်းအား ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ သဘောတူစာချုပ်အရ ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်သည် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီထံမှ မြေ (၂၁၇.၈၀) ဧက ကို လွှဲပြောင်းရယူပြီး စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ရေးအတွက် မြေအသုံးချမှုပရီမီယံကြေးအဖြစ် ကျပ်သန်း (၁၄,၀၀၀) (ကျပ်သန်းတစ်သောင်းလေးထောင်တိတိ) ကိုပေးသွင်းရမည်ဖြစ်ပါသည်။

၅။ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်၍ ကော်မရှင် ခွင့်ပြုမိန့်ရရှိပြီး (၁) နှစ်အတွင်း လုပ်ငန်းစတင်ဆောင်ရွက်မည် ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၃.၄၀ သန်း အပါအဝင် စုစုပေါင်းကျပ် ၂၈,၆၇၉.၆၅ သန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ ၁၃.၄၀ သန်း တန်ဖိုးရှိ တည်ဆောက်ရေးပစ္စည်းများအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ်(သန်း) | US$(သန်း) | စုစုပေါင်းကျပ် (သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၁၀၀.၀၀ | - | ၁၀၀.၀၀ |
| (ခ) | တည်ဆောက်ရေးသုံးပစ္စည်းများ | ၁၁,၈၀၃.၃၀ | ၁၃.၄၀ | ၂၇,၈၇၉.၆၅ |
| (ဂ) | ကျောင်းသုံးပစ္စည်းများ | ၃၀၀.၀၀ | - | ၃၀၀.၀၀ |
| (ဃ) | မြေအသုံးချမှုပရီမီယံကြေး | ၄၀၀.၀၀ | - | ၄၀၀.၀၀ |
| | **စုစုပေါင်း** | **၁၂,၆၀၃.၃၀** | **၁၃.၄၀** | **၂၈,၆၇၉.၆၅** |

၇။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၈၆ ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်၍ ပြည်တွင်း ဝန်ထ

၈။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်) တွင် ဝန်ဆောင်မှုပေးမည့် ခန့်မှန်းကျောင်းသား ဦးရေနှင့် ဝန်ဆောင်ခနှုန်း (ကျပ်)တို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | အခန်းအရေအတွက် | ကျောင်းသားဦးရေ | တစ်နှစ်ဈေးနှုန်း |
|---|---|---|---|---|
| (က) | မူလတန်း | ၁၅ | ၅၄၀ | ၁,၂၀၀,၀၀၀ |
| (ခ) | အလယ်တန်း | ၁၂ | ၄၃၂ | ၁,၈၀၀,၀၀၀ |
| (ဂ) | အထက်တန်း | ၉ | ၃၂၄ | ၂,၄၀၀,၀၀၀ |

၉။ အဆိုပြုလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂,၉၈၀.၂၀ |
| (ခ) | အသုံးစရိတ် | ၂,၄၁၆.၀၂ |
| (ဂ) | အသားတင်အမြတ် | ၅၆၄.၁၈ |

၁၀။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၈၈.၁၆ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၂၅ နှစ် ၁၁ လ ဖြစ်၍ အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၃.၅၆ ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ တစ်ဖက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

ကန့်သတ်

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး** **(နောက်ဆက်တွဲ-က)**
ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်မှ ရေတံခွန်တောင် စာသင်ကျောင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ခ) **ပညာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**
ပညာရေးဝန်ကြီးဌာနအနေဖြင့် ကိုယ်ပိုင်အထက်တန်းကျောင်း ဖွင့်လှစ်လိုပါက ကိုယ်ပိုင်ကျောင်းဥပဒေနှင့်အညီ ဆောင်ရွက်ရန်နှင့် ရင်းနှီးမြှုပ်မှုဥပဒေနှင့်အညီ လျှောက်ထားပါက သဘောထားမှတ်ချက်ပေးရန် မရှိပါကြောင်း ပြန်ကြားထားပါသည်။**(ကုမ္ပဏီမှ ပညာရေးဝန်ကြီးဌာနမှ သတ်မှတ်သော အခြေခံပညာသင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာများပါ ဘာသာရပ်များအတိုင်း လေ့ကျင့်သင်ကြားပေးမည်ဖြစ်ကြောင်း နှင့် ကိုယ်ပိုင်ကျောင်း မှတ်ပုံတင်ဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။)**

(ဂ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**
အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility –CSR)အတွက် အသားတင်အမြတ်ငွေ၏ ၂ % အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်များရေးဆွဲ၍ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်၊ **(ကုမ္ပဏီမှ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။)**

(ဃ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း** **(နောက်ဆက်တွဲ-ဃ)**
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း ၊ MIC Projects Assessment Committee အနေဖြင့် မန္တလေးတိုင်းဒေသကြီးတွင် တည်ဆောက်မည့် ကိုယ်ပိုင်စာသင်ကျောင်းလုပ်ငန်း တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေး ပစ္စည်းများအသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။

**ကန့်သတ်**

၁၂။ ငွေကြေးအထောက်အထားအဖြစ် KBZ Bank (Myaynigone) ဘဏ်ခွဲ၌ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၇ရက်နေ့ ရက်စွဲဖြင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက် အမည်ဖြင့် Bank Statement တွင် ကျပ် (၁,၂၄၂,၆၄၇,၂၂၅.၄၆) ရှိကြောင်း တင်ပြထားပါသည်။

၁၃။ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအတွက် မီးသတ်ဆေးဘူးများ ထားရှိမည်ဖြစ်ပြီး၊ ဝန်ထမ်းများအား မီးဘေးအရေးပေါ်ကာကွယ်နိုင်ရန် အရေးအပေါ် မီးသတ်နည်းပညာများလေ့ကျင့်သင်ကြားပေးခြင်း ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်၊ ဝန်ထမ်းများအတွက် လစာဝင်ငွေခွန် ပေးဆောင်မည့်အစီအစဉ်၊ လျှပ်စစ်ဓါတ်အားသုံးစွဲမှုအစီအမံတို့ကိုတင်ပြထားပြီး လူမှုဘဝသာယာဝပြောရေး (Corporate Social Responsibility -CSR)အတွက် အသားတင်အမြတ်၏ ၂ % အား ထည့်ဝင်ဆောင်ရွက်မည်ဖြစ်ဖြစ်ပြီး ဝန်ထမ်းများအတွက် နေအိမ်စီစဉ်ပေးခြင်း၊ ဝန်ထမ်းများ၏ သားသမီးများအတွက် ပညာသင်ထောက်ပံ့ကြေးများပေးအပ်ခြင်း၊ သာရေး နာရေး လူမှုရေးများတွင် အရေးပေါ်ငွေချေးနိုင်ရန် ငွေစုငွေချေးအသင်း ထူထောင်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဧပြီ လ ၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော (၁၄/၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၆။ (က) မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီမှ နိုင်ငံတကာအဆင့်မီ ရေတံခွန်တောင်ဂေါက်ကွင်း၊ Club House၊ အပန်းဖြေအားကစားဥယျာဉ်၊ စီးပွားရေးနှင့်လူနေအဆောက်အအုံများ တည်ဆောက်ရေးစီမံကိန်းလုပ်ငန်း ဆောင်ရွက်ရန် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်အား တင်ဒါဖြင့် ရွေးချယ်ခဲ့ခြင်းဖြစ်ကြောင်း၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၁၂ ရက်နေ့တွင် ကျင်းပပြုလုပ်သော မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၆/၂၀၁၅) ဆွေးနွေးဆုံးဖြတ်ချက်အရ ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်အား Developer အဖြစ် ရာခိုင်နှုန်းပြည့်ငှားရမ်းခွင့်ပြုရန် သဘောတူ ဆုံးဖြတ်ထားကြောင်း၊ ၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၂၄/၂၀၁၆) အစည်းအဝေးမှ သဘောတူခွင့်ပြုပြီးဖြစ်ကြောင်း စိစစ်ရပါသည်။

(ခ) ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၁ ရက်နေ့တွင် မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီနှင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်တို့သည် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ စီမံကိန်းသဘောတူစာချုပ် ချုပ်ဆိုပြီးဖြစ်ကြောင်း၊ ငှားရမ်းခွင့်ရရှိထားသည့် မြေဧရိယာစုစုပေါင်း (၅၄၇.၈၀) ဧကတွင် B.O.T စနစ်ဖြင့် (၃၃၀) ဧကနှင့် B.O.O စနစ်ဖြင့် (၂၁၇.၈၀) ဧက ပါဝင်ပြီး (၂၁၇.၈၀) ဧက၏ (၆.၂) ဧကတွင် ရေတံခွန်တောင် ကိုယ်ပိုင်စာသင်ကျောင်းလုပ်ငန်းအား ဆောင်ရွက်မည်ဖြစ်ကြောင်းတွေ့ရှိရပါသည်။

(ဂ) B.O.O စနစ်ဖြင့် ဆောင်ရွက်မည့် မြေဧရိယာ (၂၁၇.၈၀) ဧကပေါ်တွင် တစ်ဖက်ပါလုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်ပါသည်-

ကန့်သတ်

| စဉ် | လုပ်ငန်းအမျိုးအစား | မြေဧရိယာ (ဧက) | ပရီမီယံကြေး ကျပ် (သန်း) |
|---|---|---|---|
| (၁) | ရေတံခွန်တောင်နိုင်ငံတကာ အဆင့်မီဆေးရုံလုပ်ငန်း | ၆.၅ | ၄၂၀ |
| (၂) | **ကိုယ်ပိုင်စာသင်ကျောင်းလုပ်ငန်း** | **၆.၂** | **၄၀၀** |
| (၃) | ရေတံခွန်တောင် 3 Star Hotel and 5 Star Hotel လုပ်ငန်း | ၇.၅ | ၄၈၀ |
| (၄) | ရေတံခွန်တောင်စီးပွားရေးနှင့် လူနေအဆောက် အအုံလုပ်ငန်း | ၁၉၇.၆ | ၁၂,၇၀၀ |
| | **စုစုပေါင်း** | **၂၁၇.၈** | **၁၄,၀၀၀** |

(ဃ) အဆိုပါမြေအသုံးချမှုပရီမီယံကြေး ကျပ်သန်း ၁၄,၀၀၀ နှင့် နိုင်ငံတကာအဆင့်မီ ရေတံခွန်တောင်ဂေါက်ကွင်းလုပ်ငန်းအတွက် မြေအသုံးချမှုပရီမီယံကြေး ကျပ်သန်း ၁၀၀၀ ၊ မြေငှားရမ်းခ ကျပ်သန်း ၁၀၀၀ စုစုပေါင်း ကျပ်သန်း ၁၆,၀၀၀ အနက် ၅၀% အား ၂၀၁၅ ခုနှစ် ဇူလိုင်လနှင့် ဩဂုတ်လတို့တွင် ပေးသွင်းပြီးဖြစ်ပြီး ကျန်ငွေ ၅၀% ကိုလည်း ပေးသွင်းဆဲဖြစ်ပါသည်။

(င) မြေဧရိယာ (၅၄၇.၈၀) ဧက အနက် (၃၇၂.၉၂) ဧကမှာ မန္တလေးမြို့တော်စည်ပင် သာယာရေးကော်မတီအမည်ဖြင့် နှစ် ၇၀ စက်မှု/စီးပွား မြေငှားဂရန် ရရှိထားပြီး၊ ၎င်းမြေပေါ်တွင် အဆိုပြုလုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း စိစစ်ရပါသည်။

(စ) ကုမ္ပဏီသည် စာသင်ခန်းပေါင်း ၃၆ ခန်းပါဝင်သော လေးထပ်ကျောင်းဆောင်တည် ဆောက်ပြီး မူလတန်း၊ အလယ်တန်းနှင့် အထက်တန်း ကျောင်းသား၊ ကျောင်းသူများ အား ပညာသင်ကြားပေးမည်ဖြစ်ကြောင်း ဆောက်လုပ်မည့် ကျောင်းအဆောက်အဦး ဒီဇိုင်းနှင့်အတူ တင်ပြထားပါသည်။

(ဆ) ကုမ္ပဏီသည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ကိုယ်ပိုင်ကျောင်းဥပဒေနှင့် အညီ ဆောင်ရွက်ရမည်ဖြစ်ပြီး ပညာရေးဝန်ကြီးဌာနသို့ ကိုယ်ပိုင်ကျောင်းမှတ်ပုံတင် လက်မှတ်လျှောက်ထားရန် လိုအပ်ပါသည်။

(ဇ) ကုမ္ပဏီမှ အမေရိကန်ဒေါ်လာ ၁၃.၄၀ သန်း တန်ဖိုးရှိ တည်ဆောက်ရေး ပစ္စည်းများ အား ပြည်ပမှတင်သွင်းမည်ဖြစ်ပြီး အခွန်အကောက် ကင်းလွတ်ခွင့် ရရှိနိုင်မည်ဖြစ်ပါ သည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ဖွဲ့ဖြိုးသစ်ကုမ္ပဏီလီမိတက်မှ ရေတံခွန်တောင်ကိုယ် ပိုင်စာသင်ကျောင်းလုပ်ငန်းအား အဆိုပြုချက် တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

**ကန့်သတ်**

နောက်ဆက်တွဲ-က

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
မန္တလေးမြို့

စာအမှတ်၊ ၁ / ၂ - ၂ / ၂ ဦး ၆ (၁၀၃၉)
ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၂၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၆.၄.၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက - ၅ (အ) / မ - ၀၁၆ / ၂၀၁၆ (၂၅၂)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၂.၇.၂၀၁၆) ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / မ - ၀၁၆ / ၂၀၁၆ (၃၇၉)

၁။ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်တို့မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီး၀မြောက်ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီး၀အရှေ့(အိုင်ကြီး) ကွင်းအမှတ်(၅၅၀-က)ရှိ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် မြေ(၂၁၇.၈၀)ဧကပေါ်တွင် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်မှ ရေတံခွန်တောင်**နိုင်ငံတကာအဆင့်မီစာသင်ကျောင်းလုပ်ငန်း**အား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ စိစစ်လက်မှတ်ရေးထိုးပြီး ထောက်ခံပေးပါရန်နှင့် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာတို့ဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါ ညှိနှိုင်းလာသည့် အချက်(၆)ချက်နှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါ၊

(ခ) ပြည်သူတို့၏ လူမှုစီးပွားကို ထိခိုက်ခြင်းမရှိပါ၊

(ဂ) မြို့နယ်ဒေသအလုပ်အကိုင်အခွင့် အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါသည်၊

(ဃ) ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာ၀ပတ်၀န်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(င) လုပ်ငန်းဆောင်ရွက်နိုင်မည့်မြေနေရာ ဖြစ်ပါသည်၊

(စ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ **ကန့်ကွက်ရန်မရှိပါ။**

ဒေါက်တာဇော်မြင့်မောင်
ဝန်ကြီးချုပ်

မိတ္တူကို

လှည့်လည်စာတွဲ၊
လက်ခံစာတွဲ။

နောက်ဆက်တွဲ-ခ

M4-394
28.4.16

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပညာရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး

စာအမှတ်၊ အုပ်ချုပ်မှု (မြေယာ) ၂၀၁၆ (၃၈၈၉)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဧပြီလ (၂၅) ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းအပေါ် ပြန်ကြားခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၆.၄.၂၀၁၆)ရက်စွဲပါစာအမှတ်- ရက-၅(အ)/မ-၀၁၆/၂၀၁၆(၂၅၃)

၁။ မန္တလေးတိုင်းဒေသကြီးပုသိမ်ကြီးမြို့နယ်၊ရေကြည်အရှေ့ကွင်းအမှတ်(၅၄၈)၊ချောင်းကြီးဝမြောက်ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့(အိုင်ကြီး) ကွင်းအမှတ်(၅၅၀-က)ရှိ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသည့်မြေ(၂၁၇.၈၀)ဧကပေါ်တွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်မှ ရေတံခွန်တောင်နိုင်ငံတကာအဆင့်မီ စာသင်ကျောင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြချက်အပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြခဲ့ပါသည်

၂။ ပညာရေးဝန်ကြီးဌာနအနေဖြင့် ကိုယ်ပိုင်အထက်တန်းကျောင်း ဖွင့်လှစ်လိုပါက ကိုယ်ပိုင်ကျောင်းဥပဒေနှင့်အညီ ဆောင်ရွက်ရန်နှင့် ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လျှောက်ထားပါက သဘောထားသတ်မှတ်ပေးရန် မရှိပါကြောင်းနှင့် ပညာရေးဝန်ကြီးဌာနအနေဖြင့် ပုဂ္ဂလိကပညာရေးဥပဒေ မထွက်ရှိသေးပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၅/၄/၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ဒေါက်တာစိုးဝင်း၊အမြဲတမ်းအတွင်းဝန်)

မိတ္တူကို-
- ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-ဂ

M4 - 583
9.5.16

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁( ၁၅၁ / ၁၆ )
ရက် စွဲ၊ ၂၀၁၆ခုနှစ် မေ လ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီစာသင်ကျောင်းလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆-၄-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/ မ-၀၁၆/ ၂၀၁၆(၂၄၉)

၁။ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီနှင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက် တို့မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက်ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့အိုင်ကြီး၊ ကွင်းအမှတ်(၅၅၀-က)ရှိ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသည့်မြေ(၂၁၇.၈၀)ဧကပေါ်တွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်မှ ရေတံခွန်တောင် နိုင်ငံတကာအဆင့်မီစာသင်ကျောင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ(၂)နှစ်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်သာယာရေးနှင့်သက်သာချောင်ချိရေးစီမံချက်၊ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်တားဆီးရေးစီမံချက်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏(၂%)အား လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility - CSR)လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်းနှင့် နိုင်ငံတော်၏ချမှတ်ထားသောဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြ

ပါရှိပါသည်။

၃။ ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်မှစာသင်ကျောင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် အဆောက်အဦများဆောက်လုပ်ရာတွင် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်းမှ ထွက်ရှိလာမည့်မြေသားအမှုန်အမွှား၊ ဖုန်မှုန်များကြောင့် ပတ်ဝန်းကျင်လေထုညစ်ညမ်းခြင်း၊ တည်ဆောက်ရေးလုပ်သားများမှ စွန့်ပစ်လိုက်သည့်အမှိုက်သရိုက်များနှင့်မိလ္လာအညစ်အကြေးများ၊ စွန့်ပစ်ရေဆိုးများကြောင့် ပတ်ဝန်းကျင်ရေထု၊ လေထု၊ မြေထုညစ်ညမ်းခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီစာသင်ကျောင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင် ဖော်ပြထားသည့်လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility- CSR)အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးမထိခိုက်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်များ ရေးဆွဲ၍ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
**MYANMAR ENGINEERING SOCIETY**
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm

ရ/၂-၅၇၉
5.10.16 သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

တအမှတ်၊ မအသ / MIC / ၀၇၄၁ / ၂၀၁၆။
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ၊ (၃၀) ရက်။

အကြောင်းအရာ။ ။ **Phwint Phyo Thit Co.,Ltd ၏ ရော်ခွန်တောင် ကိုယ်ပိုင်စာသင်ကျောင်းလုပ်ငန်း ဆောင်ရွက်ရန်ကိစ္စ။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ခုနှစ်၊ ဇွန်လ(၂၁)ရက် နေ့စွဲပါ စာအမှတ်၊ မရက-၅(အ)/မ-၀၀၁၆/၂၀၁၆ (၃၅၉)။

၁။ အထက်ဖော်ပြပါအကြောင်းအရာကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Phwint Phyo Thit Co.,Ltd မှ ၂၀၁၆ခုနှစ်၊ ဇွန်လ(၂၁)ရက် စွဲဖြင့် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီး၀မြောက်ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီး၀အရှေ့(အိုင်ကြီး) ကွင်းအမှတ် (၅၅၀-က)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီပိုင်မြေဧရိယာ(၂၁၇.၈၀)ဧကအနက် မြေဧရိယာ(၆.၂)ဧက ပေါ်တွင် ရော်ခွန်တောင် ကိုယ်ပိုင်စာသင်ကျောင်းလုပ်ငန်း ဆောင်ရွက်ရန် အဆောက်အဦနှင့်ပက်သက်သောပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သော လမ်းညွှန်ချက်များပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ သဘောထားမှတ်ချက်ပေးနိုင်ရေး အတွက် Presentation ပြုလုပ်ရန်ဖိတ်ကြားချက်အရ Phwint Phyo Thit Co.,Ltd မှ တာ၀န် ရှိသူများမှ (၅-၈-၂၀၁၆) ရက်နေ့တွင် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း သို့ လာရောက်၍ စီမံကိန်း နှင့် ပတ်သတ်သော အချက်အလက်များကို ရှင်းလင်းတင်ပြခဲ့သည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း မှ MIC Projects Assessment Committee အဖွဲ့၀င် များဖြစ်ကြသော ဥက္ကဋ္ဌ ဦးအောင်မြင့်၊ အတွင်းရေးမှူး ဦးကြည်လွင်၊အဖွဲ့၀င် များဖြစ်ကြသော ဦးခင်မောင်မောင် တို့တက်ရောက်ခဲ့ကြပါသည်။

၄။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပတ်သက်၍ (၂၉.၆.၂၀၁၆)ရက်နေ့မှ (၁၉.၇.၂၀၁၆) ရက်နေ့အထိ လိုအပ်သော ပုံစံနှင့် BQ များတောင်းခဲ့ပြီး (၂၂.၇.၂၀၁၆) ရက်နေ့အထိ အဆောက်အဦအတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများကို စိစစ် သုံးသပ်ခဲ့ပါသည်။ (၂၃.၇.၂၀၁၆) တွင် ထောက်ခံတင်ပြသော အရေအတွက် အပေါ် ကုမ္ပဏီ ဘက် သို့ သဘောတူကြောင်း စာတောင်း ခံခဲ့ရာ ၊ (၂၆.၇.၂၀၁၆) နေ့တွင် ရရှိခဲ့ ပါသည်။

၅။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ MIC Projects Assessment Committee အနေဖြင့် မန္တလေးတိုင်းဒေသကြီး တွင် တည်ဆောက်မည့် ကိုယ်ပိုင်စာသင်ကျောင်းလုပ်ငန်း တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း တင်ပြအပ်ပါသည်။

၆။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံ တင်ပြ အပ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | MIC စာအုပ်ပါ အရေအတွက် | BQ တွင်ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|
| ၁။ | Cement | ၁၀၀၄၄.၇၂ T | ၁၀၀၄၄.၇၂ T | ၅၄၅၇ T |
| ၂။ | Rebar | ၁၅၃၇.၉၁ T | ၁၅၃၇.၉၁ T | ၁၀၄၄ T |
| ၃။ | Ready mixed paint | ၂၁၆၄ gal | ၂၁၆၄ gal | ၆၄၃ gal |
| ၄။ | Plastic paint | ၂၃၃၇၁.၅၆ gal | ၂၃၃၇၁.၅၆ gal | ၆၉၄၈ gal |

T = တန် , gal = ဂါလံ

၇။ အဆောက်အဦ၏ Electrical, Water & Sanitation and ACMV တို့နှင့် ပတ်သက်သည့် Drawing နှင့် BQ များရရှိပြီးပါက သဘောထားမှတ်ချက်အား သီးခြား ထပ်မံတင်ပြမည် ဖြစ်ပါသည်။

မှတ်ချက်။ ။(၁) ယခုတင်ပြသော စီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့် ပုံစံဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(အောင်မြင့်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို – Managing Director, Phwint Phyo Thit Co.,Ltd

– ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

အဖွဲ့ဝင်ရေးမှူး၊ MIC Projects Assessment Committee

– မျှောစာတွဲ

MIC Projects Assessment Committee
Myanmar Engineering Society